**ကုမ္ပဏီအမည် - New Bamaw Timber Products Company Limited**

**လုပ်ငန်း - အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့ စွဲ | ပြန်ကြားချက်ရရှိသည့်နေ့ စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၁-၁-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စက်မှုဝန်ကြီးဌာန | ၈-၂-၂၀၁၆ | ၂၄-၂-၂၀၁၆ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၈-၂-၂၀၁၆ | ၂၉-၂-၂၀၁၆ | |
| | (ဂ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ | ၈-၂-၂၀၁၆ | ၁-၃-၂၀၁၆ | |
| ၃ | PAT တင်ပြခြင်း | ၃/၂၀၁၆ (၁၈-၁-၂၀၁၆) ၇/၂၀၁၆ (၁၆-၂-၂၀၁၆) | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၈-၂-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၄/၂၀၁၆ (၅-၂-၂၀၁၆) | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၆ | MIC အစည်းအဝေးသို့ တင်ပြရန်ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀)စုံ လက်ခံရရှိခြင်း | ၈-၃-၂၀၁၆ | | |
| ၇ | MIC အစည်းအဝေးသို့ တင်ပြခြင်း | ၂၅-၃-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၇၄ ရက်** | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - New Bamaw Timber Products Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် (၄၃၊ ၄၄)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ စက်မှုဇုန် (၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၂.၀၀ သန်း |
| အရင်းကြေကာလ | - ၅ နှစ် နှင့် ၅ လ |
| IRR | - ၂၄% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၀၇၄ | - |
| ၄ | ဝင်ငွေခွန် | ၁၂၂၈.၀၈ | ၃၁၆၄.၃၇ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၄၀၄.၄၂ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၁၅၅၆၂.၅၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ၂၀၃.၈၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၃၅၅ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ၁၂၃၀.၃၁ | ၁၉၃၆၆.၂၈ |
| ၁၀ | Cost : Benefit | ၁ : ၁၅ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Bamaw Timber Products Company Limited မှ အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - New Bamaw Timber Products Company Limited<br>- Mr. Rajiv Kumar Nemani (India) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Nemani Plywood Private Limited ၅၀% (အိန္ဒိယနိုင်ငံ) နှင့်<br>- B P Industries (Plyboards) Private Limited ၅၀% (အိန္ဒိယနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၄၃၊ ၄၄)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ စက်မှုဇုန် (၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | မြေပိုင်ရှင် | - ဒေါ်နီနီထွေးနှင့်ဒေါ်အေးအေးမူ [မြေကွက်အမှတ်(၄၃)]<br>- ဦးတင်အောင်လတ် [မြေကွက်အမှတ်(၄၄)] |
| | မြေအကျယ်အဝန်း | - မြေကွက်အမှတ် (၄၃)ရှိ မြေ ၁.၆၃ ဧက (၆၅၉၆.၃၇၅ စတုရန်းမီတာ) နှင့်<br>မြေကွက်အမှတ် (၄၄)ရှိ မြေ ၁.၉၁၁ ဧက (၇၇၃၃.၅၄ စတုရန်းမီတာ)<br>စုစုပေါင်းမြေ ၃.၅၄၁ ဧက (၁၄၃၂၉.၉၁၅ စတုရန်းမီတာ) |

| | | |
|---|---|---|
| ၃။ | မြေနှင့်အဆောက်အဦ<br>ငှားရမ်းခနှုန်း | - မြေကွက်အမှတ် (၄၃)ရှိ မြေ ၁.၆၃ ဧက (၆၅၉၆.၃၇၅ စတုရန်းမီတာ) မြေနှင့် အဆောက်အဦ အတွက်<br>တစ်နှစ်ငှားရမ်းခ US$ ၃၆,၀၀၀<br>တစ်စတုရန်းမီတာလျှင် US$ ၅.၄၆<br>- မြေကွက်အမှတ် (၄၄)ရှိ မြေ ၁.၉၁၁ ဧက (၇၇၃၃.၅၄၂ စတုရန်းမီတာ) မြေနှင့် အဆောက်အဦ အတွက်<br>တစ်နှစ်ငှားရမ်းခ US $ ၄၈,၀၀၀<br>တစ်စတုရန်းမီတာလျှင် US$ ၆.၂၀<br>စက်ပစ္စည်းတစ်နှစ်ငှားရမ်း US$ ၃၀,၀၀၀ |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - **US$ ၂.၀၀ သန်း** |
| | - ငွေသား | - US$ ၀.၃၃၄ သန်း |
| | - စက်ပစ္စည်းများ | - US$ ၁.၄၇၂ သန်း |
| | - ပရိဘောဂနှင့်ရုံးသုံးပစ္စည်း | - US$ ၀.၀၂၀ သန်း |
| | - အဆောက်အဦ | - US$ ၀.၁၇၃ သန်း |
| ၆။ | ပြည်ပမှ အခွန်အကောက်<br>ကင်းလွတ်ခွင့်ဖြင့် တင်သွင်း<br>လိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကိုတင်ပြထားပါသည်။ |
| ၇။ | ဝန်ထမ်းအင်အား | **- ၃၈၀ ဦး** |
| | ပြည်တွင်း | - ၃၅၅ ဦး |
| | ပြည်ပ | - ၂၅ ဦး |

| | | |
|---|---|---|
| | | (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂၀၅,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - Plywood ကို ပြည်ပ ၈၀% နှင့် ပြည်တွင်း၂၀% ထုတ်လုပ် ရောင်းချမည်ဖြစ်ပြီး Face Veneer, Core Veneer, Sawn Timber, Furniture များကို ပြည်ပသို့ ၁၀၀ % ရောင်းချမည်ဖြစ်ပါသည်။ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမမြောက်နှစ်) | - US$ ၄၂.၂၆ သန်း |
| | အသုံးစရိတ် | - US$ ၃၉.၈၇ သန်း |
| | အသားတင်အမြတ် | - US$ ၂.၃၉ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမမြောက်နှစ် ) | |
| | ဝင်ငွေခွန် | - US$ ၀.၈၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၀၉ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၅ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၄% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဌမမြောက်နှစ်) | - ၁၅၀၀ Mwh |

၁၂။ နှစ်စဉ်ထုတ်လုပ်မှု (ဆဋ္ဌမမြောက်နှစ်)

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှုအရေအတွက် (CBM) | | ရောင်းချမည့်ဈေးနှုန်း (CBM) | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| (က) | Plywood | | | | |
| | (၁) 3.20 MM | ၁၃၇၆ | ၅၅၀၄ | ၈၅၆၁၃၀ | ၈၃၀ |
| | (၂) 6 MM | ၈၉၆ | ၃၅၈၄ | ၈၃၉၆၆၆ | ၈၀၅ |
| | (၃) 12 MM | ၂၈၈ | ၁၁၅၂ | ၇၉၀၂၇၃ | ၇၄၀ |
| | (၄) 19 MM | ၃၂၀ | ၁၂၈၀ | ၇၄၀၈၈၁ | ၇၀၂ |
| (ခ) | Face Veneer | - | ၁၂၂၉၈ | - | ၇၀၂ |
| (ဂ) | Core Veneer | - | ၁ | - | ၃၀၀ |
| (ဃ) | Sawn Timber | - | ၂၅၄၃ | - | ၇၆၇ |
| (ဃ) | Furniture | - | ၂၀၁၈၇ | - | ၁၀၂၁ |

၁၃။ အခြားတင်ပြချက်

- New Bamaw Timber Products Company Limited ၏ MOA, AOA (မူကြမ်း)၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ passport (မိတ္တူ)၊ ငွေကြေးအထောက်အထားများ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ CSR Project အစီအစဉ်များ တင်ပြထားပြီး အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၉၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၄။ စိစစ်တင်ပြချက်

- ကုမ္ပဏီမှ အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်း

| | | |
|---|---|---|
| | | ကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ "အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် တင်ပြသည့် မြေနေရာအား သွားရောက်စစ်ဆေးရန်" ဆုံးဖြတ်ခဲ့ပါသည်။<br>- အဆိုပါအစည်းအဝေးဆုံးဖြတ်ချက်အရ New Bamaw Timber Products Company Limited စက်ရုံ အဆောက်အဦ တည်ရှိရာ မြေကွက်အမှတ် (၄၃၊ ၄၄)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ စက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးသို့ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။<br>- ကွင်းဆင်းစစ်ဆေးချက်အရ New Bamaw Timber Products Company Limited မှ ငှားရမ်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန် (၃)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက်အမှတ် (၄၃) နှင့် မြေကွက်အမှတ်(၄၄)တို့မှာ စက်မှုဂရန် ရရှိထားပြီး လက်ရှိ လည်ပတ်နေသော လုပ်ငန်း မဟုတ်ပါကြောင်း၊ ကုမ္ပဏီအမည်အား စာရင်း ရှင်းလင်း ဖျက်သိမ်းမည်ဖြစ်ပါကြောင်း၊ မြေပိုင်ဆိုင်မှုများမှာ ရှင်းလင်းပါကြောင်း၊ သက်ဆိုင်ရာ စက်မှု လုပ်ငန်းလိုင်စင်၊ သစ်ခွဲစက်လိုင်စင် စသည်တို့ကို ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက အသစ် လျှောက်ထားမည် ဖြစ်ပါကြောင်း၊ အလုပ်သမား ခန့်ထားမှုကိုလည်း ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက ဥပဒေနှင့်အညီ ဆက်လက် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ လျှပ်စစ်သွယ်တန်းမှု၊ အပူပေးကိရိယာ သုံးစွဲမှုများကိုလည်း ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက ဆက်လက် ဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း စိစစ် တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပါ ကွင်းဆင်း စစ်ဆေးချက်အား ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၇/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းစပ်လျဉ်း၍ "ကွင်းဆင်း စစ်ဆေး ဆောင်ရွက်ခဲ့သည့် အစီရင်ခံစာ တင်ပြမှုအပေါ် မူလကုမ္ပဏီအား စာရင်းရှင်းလင်း ဖျက်သိမ်းပြီး ကုမ္ပဏီ မှ လုပ်ငန်းအမျိုးအစား၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှု များ ပြင်ဆင် တင်ပြလာပါသဖြင့် အဆိုပြု လုပ်ငန်းအား လက်ခံရန်" ဆုံးဖြတ်ခဲ့ပါသည်။<br>- နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ကော်မရှင်၏ ၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး နှင့် စီးပွားရေးရာ ကော်မတီ အစည်းအဝေးမှ ခွင့်ပြုခဲ့ပြီး ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါ သည်။ ပြည်ထောင်စု အစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီး မှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။<br>- အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထား သော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ် ခြင်းတွင် ခွင့်မပြုသည့် လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရ မည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာ ဆောင်ရွက်ရမည့် လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြု နိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၁၃၄ /၂၀၁၆ ( ၂၃၉ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Bamaw Timber Products Company Limited မှ အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ အိန္ဒိယနိုင်ငံ Nemani Plywood Private Limited မှ ၅၀% နှင့် B P Industries (Plyboards) Private Limited မှ ၅၀% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် New Bamaw Timber Products Company Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက်အမှတ် (၄၃)ရှိ မြေ ၁.၆၃ ဧက (၆၅၉၆.၃၇၅ စတုရန်းမီတာ)နှင့် မြေကွက်အမှတ်(၄၄)ရှိ မြေ ၁.၉၁၁ ဧက (၇၇၃၃.၅၄ စတုရန်းမီတာ) စုစုပေါင်းမြေ ၃.၅၄၁ ဧက (၁၄၃၂၉.၉၁၅ စတုရန်းမီတာ)ကို ငှားရမ်းကာ အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်နီနီထွေး၊ ဒေါ်အေးအေးမူ နှင့် New Bamaw Timber Products Company Limited တို့ကြား ချုပ်ဆိုမည့် မြေနှင့် အဆောက်အဦ ငှားရမ်းစာချုပ် (မူကြမ်း)၊ ဦးတင်အောင်လတ် နှင့် New Bamaw Timber Products Company Limited တို့ကြား ချုပ်ဆိုမည့် မြေ၊ အဆောက်အဦ နှင့် စက်ပစ္စည်း ငှားရမ်းစာချုပ် (မူကြမ်း)၊ မြေအထောက်အထားများ၊ အဆောက်အဦဓာတ်ပုံများ နှင့် စက်ပစ္စည်းပုံများကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေကွက်အမှတ် (၄၃)ရှိ မြေ ၁.၆၃ ဧက (၆၅၉၆.၃၇၅ စတုရန်း မီတာ)အား တစ်စတုရန်းမီတာလျှင် US$ ၅.၄၆ နှုန်းဖြင့် မြေ နှင့် အဆောက်အဦအတွက် တစ်နှစ်ငှားရမ်းခ US$ ၃၆,၀၀၀ ရရှိမည်ဖြစ်ပြီး မြေကွက်အမှတ် (၄၄)ရှိ မြေ ၁.၉၁၁ ဧက (၇၇၃၃.၅၄၂ စတုရန်းမီတာ)အား တစ်စတုရန်းမီတာလျှင် US$ ၆.၂၁ နှုန်းဖြင့် မြေနှင့် အဆောက်အဦအတွက် တစ်နှစ်ငှားရမ်းခ US$ ၄၈,၀၀၀ နှင့် စက်ပစ္စည်းတစ်နှစ်ငှားရမ်းခ US$ ၃၀,၀၀၀ ရရှိမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂) ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | - US$ ၀.၃၃၄ သန်း |
| (ခ) | စက် နှင့် စက်ပစ္စည်းများ | - US$ ၁.၄၇၂ သန်း |
| (ဂ) | ပရိဘောဂနှင့်ရုံးသုံးပစ္စည်း | - US$ ၀.၀၂၁ သန်း |
| (ဃ) | အဆောက်အဦ | - US$ ၀.၁၇၃ သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **- US$ ၂.၀၀၀ သန်း** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၃၅၅)ဦး နှင့် ပြည်ပ (၂၅)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂၀၅,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၄၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော Plywood ကို ပြည်ပ ၈၀% နှင့် ပြည်တွင်း၂၀% ထုတ်လုပ် ရောင်းချမည်ဖြစ်ပြီး Face Veneer, Core Veneer, Sawn Timber, Furniture များကို ပြည်ပသို့ ၁၀၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (CBM) | | ရောင်းချမည့် ဈေးနှုန်း(CBM) | |
|---|---|---|---|---|---|
| | | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်) | ပြည်ပ (US$) |
| (က) | **Plywood** | | | | |
| | (၁) 3.20 MM | ၁၃၇၆ | ၅၅၀၄ | ၈၅၆၁၃၀ | ၈၃၁ |
| | (၂) 6 MM | ၈၉၆ | ၃၅၈၄ | ၈၃၉၆၆၆ | ၈၀၅ |
| | (၃) 12 MM | ၂၈၈ | ၁၁၅၂ | ၇၉၀၂၇၃ | ၇၄၀ |
| | (၄) 19 MM | ၃၂၀ | ၁၂၈၀ | ၇၄၀၈၈၁ | ၇၀၂ |
| (ခ) | Face Veneer | - | ၁၂၂၉၈ | - | ၇၀၂ |
| (ဂ) | Core Veneer | - | ၁ | - | ၃၀၀ |
| (ဃ) | Sawn Timber | - | ၂၅၄၃ | - | ၇၆၇ |
| (င) | Furniture | - | ၂၀၁၈၇ | - | ၁၀၂၁ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၄၂.၂၆ |
| (ခ) | အသုံးစရိတ် | - | ၃၉.၈၇ |
| (ဂ) | အသားတင်အမြတ် | - | ၂.၃၉ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၀.၈၀ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် အမေရိကန်ဒေါ်လာ ၀.၀၉ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် နှင့် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၄% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၉၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ ပြည်တွင်း လုပ်သားအင်အား (၃၅၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ လုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက်အမှတ် (၄၃)ရှိ မြေ ၁.၆၃ ဧက (၆၅၉၆.၃၇၅ စတုရန်းမီတာ)နှင့် မြေကွက်အမှတ် (၄၄)ရှိ မြေ ၁.၉၁၁ ဧက (၇၇၃၃.၅၄ စတုရန်းမီတာ) စုစုပေါင်းမြေ ၃.၅၄၁ ဧက (၁၄၃၂၉.၉၁၅ စတုရန်းမီတာ)အား US$ 6.21/ sq meter/ annual နှုန်းဖြင့် ပထမနှစ် (၃၀)နှင့် သက်တမ်းတိုး (၁၀)နှစ် နှစ်ကြိမ် ငှားရမ်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထားပါသည်-

(၁) New Bamaw Timber Products Company Limited မှ အထပ်သား၊ သစ်ပါးလွှာ၊ သစ်ခွဲသားနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့် ပတ်သက်၍ သစ်တောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး သစ်စက် တည်ထောင်ခွင့်အား သစ်တောဦးစီးဌာနသို့ တင်ပြခွင့်ပြုချက် ရယူသွားရန် လိုအပ်ကြောင်း၊ ရေရှည်တွင် ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန် နှစ်စဉ်ကုန်ကြမ်း လိုအပ်မှုပမာဏ တွက်ချက်ပြီး ပုဂ္ဂလိက သစ်တောစိုက်ခင်း တည်ထောင်ခွင့်

အိတ်ဖွင့်တင်ဒါ၌ ဝင်ရောက်ယှဉ်ပြိုင် ဝယ်ယူဆောင်ရွက်နိုင်ပါကြောင်း၊ သစ်ကုန်ကြမ်း ရရှိရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်သည့် ပြည်တွင်း ပြည်ပ ရောင်းဝယ်ရေးနှင့် သစ်စက်ဌာနများ၏ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ပြီး ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှ တင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင် သစ်တောသယံဇာတ အရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှ တားမြစ်ခံထားခြင်း မရှိသည့် သစ်မျိုးများ တင်သွင်း၍လည်း ကုန်ကြမ်း လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၃) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်။

(၄) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၅) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၆) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံ ပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်၊ **(နောက်ဆက်တွဲ-ခ)**

**[ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်း လုပ်ငန်းအဖွဲ့၏ သဘောထား မှတ်ချက်အရ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP)ကို ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထား ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ အခြောက်ခံစနစ်တွင် အသုံးပြုမည့် Thermo Oil Heater အား ကျွမ်းကျင်သူများဖြင့် စနစ်တကျ တပ်ဆင်သုံးစွဲရန် လိုအပ်ပါကြောင်း၊ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-ဂ)**

**[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။]**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် အိန္ဒိယနိုင်ငံရှိ Nemani Plywood Private Limited အမည်ဖြင့် HDFC Bank ရှိ (၂၇-၁၀-၂၀၁၅) ရက်စွဲဖြင့် US$ ၁၇၆၂၄.၁၃ (ရူပီး ၁,၁၈၀,၆၄၀.၂၈) နှင့် B P Industries (Plyboards) Private Limited အမည်ဖြင့် Kotak Mahindra Bank ရှိ (၅-၁၁-၂၀၁၅)ရက်စွဲဖြင့် US$ ၁၆၇၂၃၅.၂၁ (ရူပီး ၁၁,၂၀၃,၀၈၆.၇၂) ၊

ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများနှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ New Bamaw Timber Products Company Limited မှ ထုတ်လုပ်မည့် ပစ္စည်း နမူနာပုံများ၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ အလုပ်အကိုင် အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် စီမံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်၊ CSR Project အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၂)၊ ပုဒ်မ ၂၇ အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၃/၂၀၁၆ (၁၈-၁-၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုမ္ပဏီမှ သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ ၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ “အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် တင်ပြသည့် မြေနေရာအား သွားရောက်စစ်ဆေးရန်” ဆုံးဖြတ်ခဲ့ပါသည်။

(ခ) အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်အရ New Bamaw Timber Products Company Limited စက်ရုံ အဆောက်အဦ တည်ရှိရာ မြေကွက်အမှတ် (၄၃၊ ၄၄)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ စက်မှုဇုန်(၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးသို့ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးမှုများ ပြုလုပ်ခဲ့ပါသည်။

(ဂ) ကွင်းဆင်းစစ်ဆေးချက်အရ New Bamaw Timber Products Company Limited မှ ငှားရမ်းဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ မြေကွက် အမှတ် (၄၃) နှင့် မြေကွက်အမှတ် (၄၄)တို့မှာ စက်မှုဂရန် ရရှိထားပြီး လက်ရှိ လည်ပတ်နေသော လုပ်ငန်း မဟုတ်ပါကြောင်း၊ ကုမ္ပဏီအမည်အား စာရင်း ရှင်းလင်း ဖျက်သိမ်းမည်ဖြစ်ပါကြောင်း၊ မြေပိုင်ဆိုင်မှုများမှာ ရှင်းလင်းပါကြောင်း၊ သက်ဆိုင်ရာ စက်မှုလုပ်ငန်း လိုင်စင်၊ သစ်ခွဲစက်လိုင်စင် စသည်တို့ကို ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက အသစ် လျှောက်ထားမည်ဖြစ်ပါကြောင်း၊ အလုပ်သမား ခန့်ထားမှုကိုလည်း ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက ဥပဒေနှင့်အညီ ဆက်လက် ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ လျှပ်စစ်သွယ်တန်းမှု၊ အပူပေးကိရိယာ သုံးစွဲမှုများကိုလည်း ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက ဆက်လက် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) အဆိုပါ ကွင်းဆင်းစစ်ဆေးချက်အား ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၇/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အဆိုပြုလုပ်ငန်းအား "ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့သည့် အစီရင်ခံစာ တင်ပြမှုအပေါ် မူလကုမ္ပဏီအား စာရင်းရှင်းလင်း ဖျက်သိမ်းပြီး ကုမ္ပဏီမှ လုပ်ငန်းအမျိုးအစား၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများ ပြင်ဆင် တင်ပြလာပါသဖြင့် အဆိုပြု လုပ်ငန်းအား လက်ခံရန်" ဆုံးဖြတ်ခဲ့ပါသည်။

(င) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ကော်မရှင်၏ ၄/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးနှင့် စီးပွားရေးရာ ကော်မတီ အစည်းအဝေးမှ ခွင့်ပြုခဲ့ပြီး ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါသည်။ ပြည်ထောင်စု အစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

(စ) အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့် လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်

ကို လိုက်နာ ဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် New Bamaw Timber Products Company Limited မှ အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | New Bamaw Timber Products Company Limited | **Nemani Plywood Private Ltd.**<br>Represented by:<br>(၁) Mr. Rajiv Kumar Nemani<br>Managing Director<br>Indian<br>Z 3181019 | 5 East Avas Vikas Colony Post-Betiahata, Gorakhpur, PIN: 273001, Uttar Pradesh, India. |
| | | B P Industries (Plyboards) Private Ltd.<br>Represented by:<br>(၂) Mr. Manoj Kumar Agrawal<br>Director<br>Indian<br>M 0486083 | Club Town BL-XI 3rd Flor Flat-3D VIP Road, Teghoria, North 24 Parganas, PIN: 700052, West Bengal, India. |

| | | |
|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - ၀၉- ၇၃၁၃၇၃၃၇ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - အမှတ်(၄၄)၊ မြတောင်ဝန်ကြီး ဦးမှိုလမ်း၊ စက်မှုဇုန် (၃)၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်မြို့။ |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးကျော်ထွန်းလတ် (အထွေထွေမန်နေဂျာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - အထပ်သား၊ မျက်နှာပြင် သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသား နှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၃ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈. ၂. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၃၄/၂၀၁၆(၁၂၈)

၁။ အိန္ဒိယနိုင်ငံ Nemani Plywood Private Limited မှ ၅၀% နှင့် B P Industries (Plyboards) Private Limited မှ ၅၀% ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် New Bamaw Timber Products Company Limited တည်ထောင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၄၃)ရှိ မြေ ၁. ၆၃ ဧက(၆၅၉၆. ၃၇၅ စတုရန်းမီတာ)နှင့် မြေကွက်အမှတ်(၄၄)ရှိ မြေ ၁. ၉၁၁ ဧက(၇၇၃၃. ၅၄ စတုရန်းမီတာ) စုစုပေါင်းမြေ ၃. ၅၄၁ ဧက (၁၄၃၂၉. ၉၁၅ စတုရန်းမီတာ)ကို ငှားရမ်းကာ အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသားနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၃၅၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၄၃)ရှိ မြေ ၁. ၆၃ ဧက(၆၅၉၆. ၃၇၅ စတုရန်းမီတာ)နှင့် မြေကွက်အမှတ်(၄၄)ရှိ မြေ ၁. ၉၁၁ ဧက(၇၇၃၃. ၅၄ စတုရန်းမီတာ) စုစုပေါင်းမြေ ၃. ၅၄၁ ဧက (၁၄၃၂၉. ၉၁၅ စတုရန်းမီတာ)အား US$ 6.21/sq meter/annum နှုန်းဖြင့် ပထမနှစ်(၃၀)နှင့် သက်တမ်းတိုး(၁၀)နှစ်တစ်ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

D/2016/Cainet/8.,(9)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၁၈. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၂)အရ New Bamaw Timber Products Company Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံ တင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
New Bamaw Timber Products Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cainet/8.,(10)

MIC, 107/2012

နောက်ဆက်တွဲ(ခ)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၅၈၊၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ New Bamaw Timber Produsts Company Limited မှအထပ်သား မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသားနှင့်ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၁၃၄/ ၂၀၁၆(၁၂၇)

၁။ အိန္ဒိယနိုင်ငံ Nemani Plywood Privatelimited မှ၅၀%နှင့်BP Industry Playboards Private Limited မှ ၅၀%ထည့်ဝင်ကာ မြန်မာနိုင်ငံတွင် New Bamaw Timber Produsts Company Limited တည်ထောင်၍ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၄၃)ရှိမြေ ၁.၆၃ ဧက(၆၅၉၆.၃၇၅စတုရန်းမီတာ)နှင့်(၄၄)ရှိမြေ၁.၉၁၁ ဧက(၇၇၃၃.၅၄စတုရန်းမီတာ)၊ စုစုပေါင်းမြေ၃.၅၄၁ဧက(၁၄၃၂၉.၉၁၅စတုရန်းမီတာ)ကို ငှားရမ်းကာ အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသားနှင့်ပရိဘောဂများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင်ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ ထုတ်ကုန်ပစ္စည်းများအနေဖြင့်နှစ်(၃၀)အတွင်း(၁)နှစ်လျှင် အထပ်သား ၁၁၃၀၀တန်၊ သစ်မျက်နှာပြင်ကပ်သစ်ပါးလွှာနှင့်သစ်မျက်နှာပြင်သစ်ပါးလွှာ ၁၄၀၀၀တန်၊ သစ်ခွဲသား ၇၂၀၀တန်နှင့် ပရိ

ဘောဂ ၁၄၀၀၀တန်၊ စုစုပေါင်း ၄၆၅၀၀တန်ထိ ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးလုံခြုံရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသောအသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု( Corporate Social Responsibility- CSR )လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ အမှိုက်များကိုစနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ရေစီးရေလာကောင်းမွန်ရေးအတွက် ရေမြောင်းများအားပြုပြင်ဆောင်ရွက်သွားမည်ဖြစ်ပြီး ရေဆိုးများအားစနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ New Bamaw Timber Produsts Company Limited မှ အထပ်သား၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ မျက်နှာပြင်သစ်ပါးလွှာ၊ သစ်ခွဲသားနှင့်ပရိဘောဂများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ စီစစ်ရာတွင် ဓာတုဗေဒပစ္စည်းများသုံးစွဲရန်လိုအပ်ခြင်းကြောင့် ကုန်ကြမ်းပစ္စည်းများသိုလှောင်ခြင်း၊ သုံးစွဲခြင်းအဆင့်ဆင့်မှစွန့်ပစ်ပစ္စည်းနှင့်စွန့်ပစ်အရည်၊ သစ်အမှုန်အမွှားများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်တွင် ရေ၊ လေ၊ မြေညစ်ညမ်းမှုများဖြစ်ပေါ်လာစေနိုင်ခြင်း၊ စက်ရုံလည်ပတ်ခြင်းမှထွက်ရှိလာသည့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှုနှင့် သစ်လုံးများခွဲစိတ်ရာတွင်လွှများ၊ အခြားကိရိယာပစ္စည်းများအား စနစ်တကျတပ်ဆင်ခြင်းမရှိပါက အလုပ်သမားများအန္တရာယ်ဖြစ်နိုင်ခြင်း၊ စက်ရုံဧရိယာအနီးပတ်ဝန်းကျင်မှပြည်သူများ၏ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ New Bamaw Timber Produsts Company Limited မှ အထပ်သား၊ သစ်ပါးလွှာ၊ သစ်ခွဲသားနှင့်ပရိဘောဂများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ သစ်တောဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီးသစ်စက်တည်ထောင်ခွင့်အား သစ်တောဦးစီးဌာနသို့ တင်ပြခွင့်ပြုချက်ရယူသွားရန်လိုအပ်ကြောင်း၊ ရေရှည်တွင် ကုန်ကြမ်းရရှိရေး သေချာခိုင်မာစေရန်နှစ်စဉ်ကုန်ကြမ်း လိုအပ်မှုပမာဏတွက်ချက်ပြီးပုဂ္ဂလိကသစ်တောစိုက်ခင်းတည်ထောင်ခွင့် အိတ်ဖွင့်တင်ဒါ၌ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူ ဆောင်ရွက်နိုင်ပါကြောင်း၊ သစ်ကုန်ကြမ်းရရှိရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှကျင်းပပြုလုပ်သည့်ပြည်တွင်းပြည်ပရောင်းဝယ်ရေးနှင့်သစ်စက်ဌာနများ၏ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်

ယှဉ်ပြိုင်ဝယ်ယူနိုင်ပြီး ကုမ္ပဏီအနေဖြင့် သစ်ကုန်ကြမ်းများကို ပြည်ပမှတင်သွင်းခြင်းဖြင့်လည်း နိုင်ငံပိုင်သစ်တောသယံဇာတအရင်းအမြစ်များကို ချွေတာနိုင်ပါသဖြင့် နိုင်ငံတကာမှ တားမြစ်ခံထားခြင်းမရှိသည့် သစ်မျိုးများတင်သွင်း၍လည်း ကုန်ကြမ်းလိုအပ်ချက်အားဖြည့်ဆည်းနိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ New Bamaw Timber Produsts Company Limited မှ အထပ်သား၊ သစ်ပါးလွှာ၊ သစ်သားနှင့်ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု(Corporate Social Responsibility- CSR)အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination – IEE ) ကိုဆောင်ရွက်ပြီးအစီရင်ခံစာရေးဆွဲတင်ပြရန်။

(ဂ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

MTC, ၅၄ 
23/2

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၄၁၈၅)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၃၄/ ၂၀၁၆ (၁၂၉)

၁။ New Bamaw Timber Products Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၄၃)တွင် အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ် သစ်ပါးလွှာ၊ သစ်ခွဲသားနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသားနှင့် ပရိဘောဂများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစိစစ်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) အခြောက်ခံစနစ်တွင် အသုံးပြုမည့် Thermo Oil Heater အား ကျွမ်းကျင်သူများဖြင့် စနစ်တကျ တပ်ဆင်သုံးစွဲရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ New Bamaw Timber Products Co.,Ltd. မှ အထပ်သား၊ မျက်နှာပြင်သစ်ပါးလွှာ၊ မျက်နှာပြင်ကပ်သစ်ပါးလွှာ၊ သစ်ခွဲသားနှင့် ပရိဘောဂများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးဦးစီးဌာန